လျှို့ဝှက်

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၁/မ-၁၃၆၁/၂၀၀၃ (၂၀၀ ၇)။
ရက်စွဲ၊ ၂၀၀၃ ခုနှစ်၊ ဩဂုတ်လ ၂၀ ရက်။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့ တင်ပြသည့်
အမှာစာ

အကြောင်းအရာ။ ရတနာသိင်္ဂီ ကုမ္ပဏီ လီမိတက် (Yadanar Theingi Co., Ltd.) မှ တန်(၁၀၀)ဆန့် အအေးခန်း စက်ရုံ လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ရတနာသိင်္ဂီ ကုမ္ပဏီ လီမိတက် (Yadanar Theingi Co., Ltd.) မှ အမှတ် (၁) စက်မှုဝန်ကြီးဌာန၊ မြန်မာ့ ဆေးဝါးနှင့် အိမ်သုံးပစ္စည်းလုပ်ငန်းပိုင်၊ အမှတ် (၁) ပလတ်စတစ် စက်ရုံ မြေကို ငှားရမ်း၍ တန်(၁၀၀)ဆန့် အအေးခန်းစက်ရုံ လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြုတင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၆-၂-၂၀၀၃)နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၄/၂၀၀၃) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး၊ ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။ ယင်းဆုံးဖြတ်ချက်အရ အမှတ်(၁)စက်မှုဝန်ကြီးဌာနမှ တင်ပြလာသဖြင့်(၁၇-၇-၂၀၀၃)နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့် ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၂၂/၂၀၀၃) အစည်းအဝေးသို့ ဆက်လက်တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ မူအားဖြင့် သဘောတူပြီး၊ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ငှားရမ်းနေချုပ်ရုံး သဘောထား မှတ်ချက်နှင့် B.O.T စနစ်ဖြင့် မြေငှားသဘောတူ စာချုပ်ကိုကို နောက်ဆက်တွဲ(၁) အဖြစ် တင်ပြထားပါသည်။

၂။ ယင်းလုပ်ငန်း၏ မတည်ငွေရင်းပမာဏမှာ စုစုပေါင်း ကျပ်(၁၃၄.၂၅)သန်း ဖြစ်ပါသည်။ စက်ပစ္စည်းများကို ပြည်တွင်းမှ ဝယ်ယူအသုံးပြုပါသည်။

၃။ ယင်းလုပ်ငန်းကို အမှတ်(၁) စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးနှင့် အိမ်သုံးပစ္စည်း လုပ်ငန်းပိုင် အမှတ် (၁) ပလတ်စတစ်စက်ရုံမြေ ဖြစ်သည့် အမှတ် (၁၀၅/၁၁၁)၊ အမရာလမ်း၊ စက်မှု လက်မှုရပ်ကွက်၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်မြို့ရှိ မြေ(၀.၇၆)ဧက (၃၀၆၂.၀၈ စတုရန်းမီတာ) ကို ငှားရမ်း၍ လုပ်ငန်း ဆောင်ရွက်ခြင်း ဖြစ်ပါသည်။

၄။ **အမှတ် (၁) စက်မှု ဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးနှင့် အိမ်သုံးပစ္စည်းလုပ်ငန်းပိုင်၊ အမှတ် (၁) ပလတ်စတစ် စက်ရုံနှင့် ရတနာသိင်္ဂီ ကုမ္ပဏီ လီမိတက်တို့ ချုပ်ဆိုထားသည့် B.O.T စနစ်ဖြင့် မြေငှား သဘောတူစာချုပ်ပါ** အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) မြေငှားရမ်းကာလမှာ အဆောက်အဦများ ဆောက်လုပ်ပြီးစီးသည့် နေ့မှစ၍ ကနဦး (၅)နှစ် နှင့် နောက်ထပ် (၅)နှစ်စီ (၃)ကြိမ် ဖြင့် စုစုပေါင်း (၂၀)နှစ်ဖြစ်ပါသည်၊

(ခ) ငှားရမ်းကာလ ကုန်ဆုံးသည့်အခါ ငှားရမ်းသည့် မြေနှင့် ယင်းမြေပေါ်ရှိ အဆောက်အဦတို့ကို အမှတ် (၁) ပလတ်စတစ်စက်ရုံသို့ အဖိုးစားနားမဲ့ ပြန်လည်လွှဲပြောင်း ပေးအပ် ရမည် ဖြစ်ပါသည်၊

(ဂ) မြေငှားရမ်းခနှုန်းမှာ တစ်နှစ်လျှင် ကျပ် (၁.၄၀)သန်း ဖြစ်ပြီး ငှားရမ်းကာလ (၁)နှစ် ကုန်ဆုံးပြီးတိုင်း ငှားရမ်းခကို ပြန်လည်ညှိနှိုင်း သတ်မှတ်ရာတွင် ယခင် တစ်ဆက်တည်း ငှားရမ်းခ၏ (၈)ရာခိုင်နှုန်းထက် မပိုစေရပါ၊

(ဃ) တစ်နှစ်စာငှားရမ်းခကို (၃)လကစ်ကြိမ် အရစ်ကျ ပေးချေရမည်ဖြစ်ပြီး တစ်ကြိမ်လျှင် ကျပ် ၃၅၀၀၀၀/- (ကျပ်သုံးသိန်း ငါးသောင်းတိတိ) နှုန်းဖြင့် ပေးချေရန် ကျရောက်သည့် လ၏ လဆန်း (၃)ရက်နေ့ထက် နောက်မကျစေဘဲ ပေးသွင်းရမည် ဖြစ်ပါသည်။ ငှားရမ်းခရငွေ အားလုံး နိုင်ငံတော်သို့ ပေးသွင်းမည် ဖြစ်ပါသည်။

၅။ လုပ်ငန်းမှ ထုတ်လုပ်သော ငါး၊ ပုစွန်များကို (၁၀၀) ရာခိုင်နှုန်း ပြည်ပသို့တင်ပို့မည် ဖြစ်ပါသည်။ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှုနှင့် ဝန်ဆောင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု (မက်ထရစ်တန်) | ဝန်ဆောင်မှု (မက်ထရစ်တန်) |
|---|---|---|---|
| ၁။ | ငါး | ၂၁၆၀ | ၃၂၄၀ |
| ၂။ | ပုစွန် | ၁၀၈ | ၅၄၀ |

၆။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

(က) ဝင်ငွေခွန် — အမေရိကန်ဒေါ်လာ ၀.၄၂ သန်း

(ခ) ကုန်သွယ်လုပ်ငန်းခွန် — အမေရိကန်ဒေါ်လာ ၀.၃၄ သန်း

(ဂ) မြေငှားရမ်းခရငွေ — ကျပ် ၁.၄၀ သန်း

၇။ လုပ်ငန်းကိုဆောင်ရွက်ရန်အတွက် ပြည်တွင်းမှဝန်ထမ်း(၇၅)ဦးနှင့် ပြည်ပမှ ဝန်ထမ်း(၁)ဦး ခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။

၈။ ယင်းအဆိုပြုစက်ရုံမှာ လျှပ်စစ်ဓါတ်အား သုံးစွဲလျှက်ရှိပါကြောင်းနှင့် ဓါတ်အားဆက်လက်ပေး နိုင်ပါကြောင်း မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်းမှ သဘောထားပြန်ကြားလာပါသည်။

၉။ ယင်းလုပ်ငန်းအတွက် မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာန၏ သဘောထား ပြန်ကြားစာတွင် Waste Water Treatment ဆောင်ရွက်ထားမှုမှာ သတ်မှတ်ချက်နှင့် ကိုက်ညီမှုရှိကြောင်း၊ အဆိုပြုချက် အပေါ် ကန့်ကွက်ရန် မရှိကြောင်းနှင့် ခွင့်ပြုဆောင်ရွက်စေသင့်ပါကြောင်း ဖော်ပြထားပါသည်။

၁၀။ ဆောက်လုပ်ရေးဝန်ကြီးဌာနမှ သဘောထားတွင် အအေးခန်းစက်ရုံလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရေး၊ စွန့်ပစ်ရေများကို အနယ်စစ်ဇကာများ၊ အနည်ထိုင်ကန်များဖြင့် စနစ် တကျ သန့်စင်စေပြီးမှ စွန့်ပစ်သွားမည့် အစီအစဉ်များထားရှိ ဆောင်ရွက်မည်ဖြစ်ပြီး အမှတ် (၁) စက်မှု ဝန်ကြီးဌာနမှလည်း ကန့်ကွက်ရန် မရှိပါကြောင်းနှင့် ငါးလုပ်ငန်းဦးစီးဌာနမှလည်း စက်ရုံလည်ပတ်ခွင့်ပြု ထားပြီးဖြစ်၍ လုပ်ငန်းဆောင်ရွက်ခွင့်အား ခွင့်ပြုပေးနိုင်ပါရန် ထောက်ခံတင်ပြကြောင်း ပြန်ကြားလာပါ သည်။

၁၁။ ယင်းလုပ်ငန်း၏ ငွေကြေးဆိုင်ရာ အထောက်အထားအဖြစ် မြန်မာ့စီးပွားရေးဘဏ် (ရုံးချုပ်) ရှိ ရတနာသိင်္ဂီ ကုမ္ပဏီ လီမိတက်၏ (၁၂-၆-၂၀၀၃)နေ့ရှိ ဘဏ်လက်ကျန်မှာ ကျပ်(၈၂.၂၁)သန်း ရှိကြောင်း တင်ပြထားပါသည်။

၁၂။ ယင်းလုပ်ငန်းနှင့်စပ်လျဉ်း၍ ပိုင်ဆိုင်မှု၊ ပတ်ဝန်းကျင်ထိန်းသိမ်းမှုနှင့် စက်ရုံမှ စွန့်ပစ်သော ရေများ ကို ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရန်အတွက် Waste Water Treatment စနစ်ထားရှိ ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိများ ပြုထားပါသည်။

၁၃။ ကုမ္ပဏီမှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်း လွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားဖြစ်လုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်း ဆုံးဖြတ် ခဲ့ပါသည်။

၁၄။ <u>ဆုံးဖြတ်ရန်အချက်</u>။

(က) ရတနာသိင်္ဂီ ကုမ္ပဏီ လီမိတက် (Yadanar Theingi Co., Ltd.) မှ အမှတ် (၁) စက်မှု ဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးနှင့် အိမ်သုံးပစ္စည်းလုပ်ငန်းပိုင်၊ အမှတ် (၁) ပလတ်စတစ် စက်ရုံ မြေကိုငှားရမ်း၍ တန်(၁၀၀)ဆန့် အအေးခန်းစက်ရုံလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြု တင်ပြ ခြင်းကို ခွင့်ပြုရန် သဘောတူ-မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် **သက်**သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ–မတူ။

၁၅။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်။

အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

( ဦးသောင်း )
ဥက္ကဋ္ဌ
ဝန်ကြီး၊ သိပ္ပံ နှင့် နည်းပညာ ဝန်ကြီးဌာန။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့။

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရကာ-၁/မ-၁၃၆၁/ ၂၀၀၃ (၁၄ ၄ ၇)။
ရက်စွဲ၊ ၂၀၀၃ ခုနှစ်၊ ဇူလိုင်လ ၉ ရက်။

ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ တင်ပြသည့်
အမှာစာ

အကြောင်းအရာ။ ရတနာသိင်္ဂီ ကုမ္ပဏီ လီမိတက် (Yadanar Theingi Co., Ltd.) မှ အအေးခန်း စက်ရုံ လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ရတနာသိင်္ဂီ ကုမ္ပဏီ လီမိတက် (Yadanar Theingi Co., Ltd.) မှ အမှတ် (၁) စက်မှုဝန်ကြီးဌာန၊ မြန်မာ့ ဆေးဝါးနှင့် အိမ်သုံးပစ္စည်းလုပ်ငန်းပိုင်၊ အမှတ် (၁) ပလတ်စတစ် စက်ရုံမြေကို ငှားရမ်း၍ အအေးခန်းစက်ရုံ လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၆-၂-၂၀၀၃)နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၄/၂၀၀၃) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး၊ ကုန်သွယ်မှုမူဝါဒကောင်စီသို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။ ယင်းဆုံးဖြတ်ချက်အရ အမှတ်(၁) စက်မှုဝန်ကြီးဌာနမှ တင်ပြလာသဖြင့် ကုန်သွယ်မှု မူဝါဒကောင်စီသို့ ဆက်လက်တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ဧရှနေချုပ်ရုံး သဘောထား မှတ်ချက်နှင့် B.O.T စနစ်ဖြင့် မြေငှားသဘောတူ စာချုပ်တို့ကို နောက်ဆက်တွဲ(၁)အဖြစ် တင်ပြထားပါ သည်။

၂။ ယင်းလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ စုစုပေါင်း ကျပ် (၁၃၄.၂၅)သန်း ဖြစ်ပါသည်။ ယင်းတွင် ငွေသား ကျပ် (၅၅.၀၀)သန်း၊ စက်ပစ္စည်းကိရိယာ တန်ဖိုး ကျပ် (၂၃.၆၂)သန်း၊ အဆောက် အဦတန်ဖိုး ကျပ် (၅၃.၉၀)သန်းနှင့် ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်း တန်ဖိုး ကျပ် (၁.၇၃)သန်း ထည့်ဝင် ရင်းနှီးမည် ဖြစ်ပါသည်။ စက်ပစ္စည်းများကို ပြည်တွင်းမှ ဝယ်ယူအသုံးပြုပါသည်။

၃။ ယင်းလုပ်ငန်းကို အမှတ်(၁) စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးနှင့် အိမ်သုံးပစ္စည်းလုပ်ငန်း လက်အောက်ရှိ ၊ အမှတ် (၁) ပလတ်စတစ်စက်ရုံမြေ ဖြစ်သည့် အမှတ် (၁၀၅/၁၁၁)၊ အမရာလမ်း၊ စက်မှုလက်မှုရပ်ကွက်၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်မြို့ရှိ မြေ (၀.၇၆) ဧက (၃၀၆၂.၀၈ စတုရန်းမီတာ) ကို ငှားရမ်း၍ လုပ်ငန်းဆောင်ရွက်ခြင်း ဖြစ်ပါသည်။

၄။ အမှတ် (၁) စက်မှု ဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးနှင့် အိမ်သုံးပစ္စည်းလုပ်ငန်းပိုင်၊ အမှတ် (၁) ပလတ်စတစ် စက်ရုံနှင့် ရတနာသိင်္ဂီ ကုမ္ပဏီ လီမိတက်တို့ ချုပ်ဆိုထားသည့် B.O.T စနစ်ဖြင့် မြေငှား သဘောတူစာချုပ်ပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) မြေငှားရမ်းကာလမှာ အဆောက်အအုံများ ဆောက်လုပ်ပြီးစီးသည့် နေ့မှစ၍ ကနဦး (၅)နှစ်နှင့် နောက်ထပ် (၅)နှစ်စီ (၃)ကြိမ် ဖြင့် စုစုပေါင်း (၂၀)နှစ်ဖြစ်ပါသည်၊

(ခ) ငှားရမ်းကာလ ကုန်ဆုံးသည့်အခါ ငှားရမ်းသည့် မြေနှင့် ယင်းမြေပေါ်ရှိ အဆောက်အအုံတို့ကို အမှတ် (၁) ပလတ်စတစ်စက်ရုံသို့ အဖိုးစားနားမဲ့ ပြန်လည်လွှဲပြောင်း ပေးအပ် ရမည် ဖြစ်ပါသည်၊

(ဂ) မြေငှားရမ်းခနှုန်းမှာ တစ်နှစ်လျှင် ကျပ် (၁.၄၀)သန်း ဖြစ်ပြီး ငှားရမ်းကာလ (၁)နှစ် ကုန်ဆုံးပြီးတိုင်း ငှားရမ်းခကို ပြန်လည်ညှိနှိုင်း သတ်မှတ်ရာတွင် ယခင် တစ်ဆက်တည်း ငှားရမ်းခ၏ (၈)ရာခိုင်နှုန်းထက် မပိုစေရပါ၊

(ဃ) တစ်နှစ်စာငှားရမ်းခကို (၃)လတစ်ကြိမ် အရစ်ကျ ပေးချေရမည်ဖြစ်ပြီး တစ်ကြိမ်လျှင် ကျပ် ၃၅၀၀၀၀/- (ကျပ်သုံးသိန်း ငါးသောင်းတိတိ) နှုန်းဖြင့် ပေးချေရန် ကျရောက်သည့် လ၏ လဆန်း (၃)ရက်နေ့ထက် နောက်မကျစေဘဲ ပေးသွင်းရမည် ဖြစ်ပါသည်။ ငှားရမ်းခရငွေအားလုံး နိုင်ငံတော်သို့ ပေးသွင်းမည် ဖြစ်ပါသည်။

၅။ လုပ်ငန်းမှ ထုတ်လုပ်သော ငါး၊ ပုစွန်များကို (၁၀၀) ရာခိုင်နှုန်း ပြည်ပသို့တင်ပို့မည် ဖြစ်ပါသည်။ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှု၊ ဝန်ဆောင်မှုနှင့် ရောင်းဈေးနှုန်း၊ ဝန်ဆောင်ခနှုန်းတို့မှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု | | ဝန်ဆောင်မှု | |
|---|---|---|---|---|---|
| | | မက်ထရစ်တန် | ပြည်ပရောင်း (US $/MT) | မက်ထရစ်တန် | ဝန်ဆောင်ခနှုန်း (ကျပ်/မ-တန်) |
| ၁။ | ငါး | ၂၁၆၀ | ၁၀၀၀ | ၃၂၄၀ | ၇၀၀၀၀ |
| ၂။ | ပုစွန် | ၁၀၈ | ၁၁၀၀၀ | ၅၄၀ | ၈၀၀၀၀ |

၆။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | အမေရိကန်ဒေါ်လာ (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၃.၃၅ |
| (ခ) | အသုံးစရိတ် | ၁.၉၉ |
| (ဂ) | အသားတင်အမြတ် | ၂.၃၆ |

## ကုမ္ပဏီ ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ လိပ်စာ |
|---|---|---|---|
| ၁။ | ရတနာသိင်္ဂီ ကုမ္ပဏီ လီမိတက် (Yadanar Theingi Co., Ltd.) | ၁။ ဦးအိုက်ယီ (မန်နေဂျင်းဒါရိုက်တာ) | အမှတ် ၇၇၊ ဈေးတန်းရပ်၊ နမ့်ခမ်းမြို့နယ်၊ ရှမ်းပြည်နယ်မြောက်ပိုင်း။ |
| | | ၂။ ဦးယုံစိန် (ခ) ဦးစိုးမြင့် (ဒါရိုက်တာ) | အမှတ် ၁၀၊ မိုခမ်းရပ်၊ နမ့်ခမ်းမြို့နယ်၊ ရှမ်းပြည်နယ်မြောက်ပိုင်း။ |
| | | ၃။ ဒေါ်နွယ်နီဦး (ဒါရိုက်တာ) | အမှတ် ၇၊ စပယ်လမ်း၊ ငွေကြာပန်းရိပ်သာ၊ ဘောင်ဥက္ကလာပမြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၄။ ဦးအောင်အောင်ဦး (ဒါရိုက်တာ) | အမှတ် ၇၊ စပယ်လမ်း၊ ငွေကြာပန်းရိပ်သာ၊ ဘောင်ဥက္ကလာပမြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၅။ ဒေါ်မေရီ (ဒါရိုက်တာ) | အမှတ် ၁၀၊ မိုခမ်းရပ်၊ နမ့်ခမ်းမြို့နယ် ရှမ်းပြည်နယ်မြောက်ပိုင်း။ |
| | | ၆။ ဒေါ်ဆုံလန် (ဒါရိုက်တာ) | အမှတ် ၇၇၊ ဈေးတန်းရပ်၊ နမ့်ခမ်းမြို့နယ်၊ ရှမ်းပြည်နယ်မြောက်ပိုင်း။ |
| | | ၇။ ဦးကျော်ဝေအောင် (ဒါရိုက်တာ) | အမှတ် ၂၈၆၊ ရွှေတိဂုံဘုရားလမ်း၊ လသာမြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၈။ ဒေါ်နန်းအေးနန်း (ဒါရိုက်တာ) | အမှတ် ၇၇၊ ဈေးတန်းရပ်၊ နမ့်ခမ်းမြို့နယ်၊ ရှမ်းပြည်နယ်မြောက်ပိုင်း။ |

၇။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

| | | | |
|---|---|---|---|
| (က) | ဝင်ငွေခွန် | အမေရိကန်ဒေါ်လာ | ၀.၄၂ သန်း |
| (ခ) | ကုန်သွယ်လုပ်ငန်းခွန် | အမေရိကန်ဒေါ်လာ | ၀.၃၄ သန်း |
| (ဂ) | မြေငှားရမ်းခရငွေ | ကျပ် | ၁.၄၀ သန်း |

၈။ လုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၇၅)ဦးနှင့် ပြည်ပမှ ဝန်ထမ်း (၁)ဦး ခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။

၉။ ယင်းအဆိုပြုစက်ရုံမှာ လျှပ်စစ်ဓါတ်အား သုံးစွဲလျက်ရှိပါကြောင်းနှင့် ဓါတ်အားဆက်လက်ပေး နိုင်ပါကြောင်း မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်းမှ သဘောထားပြန်ကြားလာပါသည်။

၁၀။ ယင်းလုပ်ငန်းအတွက် မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာန၏ သဘောထား ပြန်ကြားစာတွင် Waste Water Treatment ဆောင်ရွက်ထားမှုမှာ သတ်မှတ်ချက်နှင့် ကိုက်ညီမှုရှိကြောင်း၊ အဆိုပြုချက် အပေါ် ကန့်ကွက်ရန် မရှိကြောင်းနှင့် ခွင့်ပြုဆောင်ရွက်စေသင့်ပါကြောင်း ဖော်ပြထားပါသည်။

၁၁။ ဆောက်လုပ်ရေးဝန်ကြီးဌာနမှ သဘောထားတွင် အအေးခန်းစက်ရုံလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရေး၊ စွန့်ပစ်ရေများကို အနယ်စစ်ကန်များ၊ အနည်ထိုင်ကန်များဖြင့် စနစ်တကျ သန့်စင်စေပြီးမှ စွန့်ပစ်သွားမည့် အစီအစဉ်များထားရှိ ဆောင်ရွက်မည်ဖြစ်ပြီး အမှတ် (၁) စက်မှု ဝန်ကြီးဌာနမှလည်း ကန့်ကွက်ရန် မရှိပါကြောင်းနှင့် ငါးလုပ်ငန်းဦးစီးဌာနမှလည်း စက်ရုံလည်ပတ်ခွင့်ပြု ထားပြီးဖြစ်၍ လုပ်ငန်းဆောင်ရွက်ခွင့်အား ခွင့်ပြုပေးနိုင်ပါရန် ထောက်ခံတင်ပြကြောင်း ပြန်ကြားလာပါ သည်။

၁၂။ ယင်းလုပ်ငန်း၏ ငွေကြေးဆိုင်ရာ အထောက်အထားအဖြစ် မြန်မာ့စီးပွားရေးဘဏ် (ရုံးချုပ်) ရှိ ရတနာသိင်္ဂီ ကုမ္ပဏီ လီမိတက်၏ (၁၂-၆-၂၀၀၃) နေ့ရှိ ဘဏ်လက်ကျန်မှာ ကျပ် (၈၂.၂၁) သန်း ရှိ ကြောင်း တင်ပြထားပါသည်။

၁၃။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး၊ နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ် ချက်များကို လိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု နှင့် မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ ကြိုကြိုတင်ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း၊ ပြည်ပသို့ တင်ပို့ရောင်းချနိုင်ရန်ဈေးကွက်ရှိပြီးဖြစ်ကြောင်းနှင့် စက်ရုံမှ ထွက်ရှိသော ရေများကို ပတ်ဝန်း ကျင် ညစ်ညမ်းမှုမရှိစေရန်အတွက် Waste Water Treatment စနစ်ထားရှိ ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၄။ ကုမ္ပဏီမှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်း လွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားဖြစ်လုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်း ဆုံးဖြတ် ခဲ့ပါသည်။

၇။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

| | | | |
|---|---|---|---|
| (က) | ဝင်ငွေခွန် | အမေရိကန်ဒေါ်လာ | ၀.၄၂ သန်း |
| (ခ) | ကုန်သွယ်လုပ်ငန်းခွန် | အမေရိကန်ဒေါ်လာ | ၀.၃၄ သန်း |
| (ဂ) | မြေငှားရမ်းခရငွေ | ကျပ် | ၁.၄၀ သန်း |

၈။ လုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၇၅)ဦးနှင့် ပြည်ပမှ ဝန်ထမ်း (၁)ဦး ခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။

၉။ ယင်းအဆိုပြုစက်ရုံမှာ လျှပ်စစ်ဓါတ်အား သုံးစွဲလျှက်ရှိပါကြောင်းနှင့် ဓါတ်အားဆက်လက်ပေး နိုင်ပါကြောင်း မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်းမှ သဘောထားပြန်ကြားလာပါသည်။

၁၀။ ယင်းလုပ်ငန်းအတွက် မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာန၏ သဘောထား ပြန်ကြားစာတွင် Waste Water Treatment ဆောင်ရွက်ထားမှုမှာ သတ်မှတ်ချက်နှင့် ကိုက်ညီမှုရှိကြောင်း၊ အဆိုပြုချက် အပေါ် ကန့်ကွက်ရန် မရှိကြောင်းနှင့် ခွင့်ပြုဆောင်ရွက်စေသင့်ပါကြောင်း ဖော်ပြထားပါသည်။

၁၁။ ဆောက်လုပ်ရေးဝန်ကြီးဌာနမှ သဘောထားတွင် အဆောက်အအုံနှင့် စက်ရုံလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရေး၊ စွန့်ပစ်ရေများကို အနယ်စစ်ကန်များ၊ အနည်ထိုင်ကန်များဖြင့် စနစ်တကျ သန့်စင်စေပြီးမှ စွန့်ပစ်သွားမည့် အစီအစဉ်များထားရှိ ဆောင်ရွက်မည်ဖြစ်ပြီး အမှတ် (၁) စက်မှုဝန်ကြီးဌာနမှလည်း ကန့်ကွက်ရန် မရှိပါကြောင်းနှင့် ငါးလုပ်ငန်းဦးစီးဌာနမှလည်း စက်ရုံလည်ပတ်ခွင့်ပြုထားပြီးဖြစ်၍ လုပ်ငန်းဆောင်ရွက်ခွင့်အား ခွင့်ပြုပေးနိုင်ပါရန် ထောက်ခံတင်ပြကြောင်း ပြန်ကြားလာပါသည်။

၁၂။ ယင်းလုပ်ငန်း၏ ငွေကြေးဆိုင်ရာ အထောက်အထားအဖြစ် မြန်မာ့စီးပွားရေးဘဏ် (ရုံးချုပ်) ရှိ ရတနာသီဂီ ကုမ္ပဏီ လီမိတက်၏ (၁၂-၆-၂၀၀၃) နေ့ရှိ ဘဏ်လက်ကျန်မှာ ကျပ် (၈၂.၂၁) သန်း ရှိကြောင်း တင်ပြထားပါသည်။

၁၃။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး၊ နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု နှင့် မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း၊ ပြည်ပသို့ တင်ပို့ရောင်းချနိုင်ရန်ဈေးကွက်ရှိပြီးဖြစ်ကြောင်းနှင့် စက်ရုံမှ ထွက်ရှိသော ရေများကို ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရန်အတွက် Waste Water Treatment စနစ်ထားရှိ ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၄။ ကုမ္ပဏီမှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားဖြစ်လုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်း ဆုံးဖြတ်ခဲ့ပါသည်။

| | |
|---|---|
| ၁။ ကုမ္ပဏီ၏ တယ်လီဖုန်း နံပါတ်၊ ဖက်စ်နံပါတ် | - 665711, 667007, 09-27024 |
| ၂။ ကုမ္ပဏီ၏ လိပ်စာ အပြည့်အစုံ | - အမှတ်(၁၀၅-၁၁၁)၊ အမရာလမ်း၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်း။ |
| ၃။ ကုမ္ပဏီ၏ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး | - ဦးအိုက်ယိ (အုပ်ချုပ်မှု ဒါရိုက်တာ) |
| ၄။ ကုမ္ပဏီအနေဖြင့် ဆောင်ရွက်သည့်လုပ်ငန်းများ | - အအေးခန်းစက်ရုံလုပ်ငန်း |
| ၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်နှင့် နေ့စွဲ | - အမှတ် (၅၂၇/၁၉၉၂-၉၃) ၅-၁၁-၁၉၉၂ |
| ၆။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | - မြန်မာ့စီးပွားရေးဘဏ် (ရုံးချုပ်)ရှိ ဘဏ်စာရင်းအမှတ် Y-0389 |

လုပ်ငန်း စီမံကိန်း အဆိုပြုချက်၏ အဓိကအချက်များ
(မြန်မာနိုင်ငံသား များ ရင်း နှီး မြှုပ်နှံမှုဥပဒေအရ)

| | | | |
|---|---|---|---|
| ၁ | ကုမ္ပဏီအမည် | ရတနာသိင်္ဂီကုမ္ပဏီလီမိတက် (Yadanar Theingi Co., Ltd.) (၅-၁၁-၉၂ နေ့တွင်ကုမ္ပဏီမှတ်ပုံတင်ပြီး) | |
| ၂ | လုပ်ငန်း အဆိုပြုသူအမည် | ဦး အိုက်ယိ | |
| ၃ | အဆိုပြုလုပ်ငန်း အမျိုး အစား | အအေး ခန်း စက်ရုံလုပ်ငန်း | |
| ၄ | တည်နေရာ | အမှတ်(၁၀၅/၁၁၁)၊ အမရာလမ်း၊ စက်မှုလက်မှုရပ်ကွက်၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်မြို့။ | |
| ၅ | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု | ကျပ် ၁၃၄.၂၅သန်း | |
| | - ငွေပမာဏ | ကျပ် ၅၅.၀၀သန်း | |
| | - စက်ပစ္စည်း ကိရိယာများ | ကျပ် ၂၃.၆၂သန်း | |
| | - အဆောက်အဦ | ကျပ် ၅၃.၉၀သန်း | |
| | - ပရိဘောဂနှင့်လုပ်ငန်း သုံးပစ္စည်း | ကျပ် ၁.၇၃သန်း | |
| ၆ | မြေအကြောင်း အရာ | | |
| | - မြေအကျယ်အဝန်း | (၀.၇၆)ဧက(၃၀၆၂.၀၈၀စတုရန်းမီတာ) | |
| | - မြေပိုင်ဆိုင်မှု | အမှတ်(၁)စက်မှုဝန်ကြီး ဌာန၊ မြန်မာ့ဂေါ်ဇာဝါး နှင့်အိမ်သုံး ပစ္စည်း လုပ်ငန်း ပိုင်အမှတ်(၁)ပလပ်စတစ်စက်ရုံမြေ။ | |
| | - မြေငှါး ရမ်း ကာလ | ကနဦး (၅)နှစ် နောက်ထပ်(၅)နှစ်စီ(၃)ကြိမ်ဖြင့်စုစုပေါင်း (၂၀)နှစ် | |
| | = မြေငှါး ရမ်း ခ | ကျပ် (၁.၄၀)သန်း (တစ်စတုရန်း မီတာလျှင်တစ်နှစ် ၄၅၇.၂၁ ကျပ်နှုန်း) | |
| ၇ | ထုတ်လုပ်မှု(ပုံမှန်နှစ်) | ထုတ်လုပ်မှု (မက်ထရစ်တန်) | ဝန်ဆောင်မှု (မက်ထရစ်တန်) |
| | အအေး ခန်း စက်ရုံ | | |
| | - ငါး | ၂၁၆၀ | ၃၂၄၀ |
| | - ပုဇွန် | ၁၀၀ | ၁၅၀ |

| | | |
|---|---|---|
| ၈ | ရောင်း ချမည့်နည်း စနစ် | |
| | - ပြည်ပ | ၁၀၀% |
| ၉ | ရောင်း ဈေး နှုန်း (ပုံမှန်နှစ်) | ပြည်ပ ရောင်း (US $/MT) |
| | - ငါး | ၁၀၀၀ |
| | - ပုဇွန် | ၁၁၀၀၀ |
| ၁၀ | ဝန် ဆောင်ခ နှုန်း | ကျပ်/မတန် |
| | - ငါး | ၇၀၀၀၀ |
| | - ပုဇွန် | ၈၀၀၀၀ |
| ၁၁ | ဝင်ငွေ (ပုံမှန်နှစ်) | |
| | - နိုင်ငံခြား ငွေဖြင့် | US $ ၃.၃၅ သန်း |
| | - ကျပ် ငွေဖြင့် | ကျပ် ၂၇၀.၀၀ သန်း |
| ၁၂ | နိုင်ငံ တော်မှ ပုံမှန်နှစ်တွင်ရရှိမည့် အကျိုး အမြတ် | |
| | - ဝင်ငွေခွန် | US$ ၀.၄၂ သန်း |
| | - ကုန်သွယ်လုပ်ငန်း ခွန် (ပြည်ပ ရောင်းရငွေ ပေါ် ၁၀%) | US$ ၀.၃၄ သန်း |
| | - မြေငှါး ရမ်း ခရငွေ | ကျပ် ၁.၄၀ သန်း |
| ၁၃ | တည် ဆောက် မှုကာလ | (၉) လ |
| ၁၄ | ဝန်ထမ်း အင်အား | ၇၆ ဦး |
| | - ပြည်တွင်း | ၇၅ ဦး |
| | - ပြည်ပ | ၁ ဦး |
| ၁၅ | အခြား | - စက်ပစ္စည်း များ ကိုပြည်တွင်း မှ ဝယ်ယူအသုံးပြု မည်ဖြစ် ပါသည်။<br>- စက်ပစ္စည်း စာရင်း ကိုပူး တွဲတင်ပြထား ပါသည်။ |

-အမှတ်(၁) စက်မှုဝန်ကြီး ဌာန၊ မြန်မာ့ဆေး ဝါး နှင့်အိမ်သုံး ပစ္စည်း လုပ်ငန်း အောက်ရှိ အမှတ်(၁) ပလပ်စတစ်စက်ရုံနှင့် ဂျပန်သိ.. ကုမ္ပဏီလီမိတက်တို့ချုပ်ဆိုထားသည့် (B.O.T ) စနစ်ဖြင့် မြေငှါး သဘောတူစာချုပ် ပါအချက်များ မှာ-

- မြေငှါး ရမ်း ကာလမှာ အဆောက်အဦများ ဆောက်လုပ်ပြီး စီး သည့်နေ့မှ စ၍ ကနဦး (၅) နှစ်နှင့် နောက်ထပ် (၅) နှစ်စီ (၃) ကြိမ်ဖြင့် ရရ ပေါင်း (၂၀) နှစ်သတ်မှတ်ပြီး နှစ်ဦး နှစ်ဖက်ဆက်လက်ငှါး ရမ်း ရန်သဘော တူညီပါက ကော်မရှင်သို့တင်ပြပြီး နောက်ထပ် (၅) နှစ်တစ်ကြိမ်ဆက်လက်ငှါး ရမ်း နိုင်ပါသည်။
/B.O.T စာချုပ်အပိုဒ်၅(က) /
- ငှါး ရမ်း ကာလကုန်ဆုံး သည့်အခါငှါး ရမ်းသည့် မြေနှင့်ယင်း မြေပေါ်ရှိအဆောက်အဦတို့ကိုအမှတ် (၁) ပလပ်စတစ်စက်ရုံသို့အဖိုး စားနားမဲ့ ပြန်လည်လွှဲပြောင်း ပေးအပ်ရမည်ဖြစ်ပါသည်။
/B.O.T စာချုပ်အပိုဒ်၅(ခ) /
- မြေငှါး ရမ်း ခနှုန်းမှာ တစ်နှစ်လျှင်ကျပ် (၁.၄၀) သန်း ဖြစ်ပြီး ငှါးရမ်းကာလ(၁) နှ.. ကုန်ဆုံး ပြီး တိုင်းငှါး ရမ်းခကိုပြန်လည်သုံးသပ်ပြီး သတ်မှတ်ရာတွင်ယခင်တစ်ဆက်ကသီး ငှါးရမ်း ခ၏(ဂ) ရာခိုင်နှုန်း ထက်မပိုစေရပါ။
/B.O.T စာချုပ်အပိုဒ် ၆ /
-တစ်နှစ်စာငှါး ရမ်း ခကို (၃) လတစ်ကြိမ်အာ.. ကျဖြင့် ပေး ချေရမည်ဖြစ်ပြီး တစ်ကြိမ်လျှင်ကျပ် ၃၅၀၀၀၀/- (ကျပ်သုံး သိန်းငါး သောင်း.. တိ) နှုန်းဖြင့်ပေး ချေရန်ကျရောက်သည့်လ.. လဆန်း (၃) ရက်နေ့ထက်နောက်မကျစေဘဲ ပေး သွင်း ရမည်ဖြစ်ပါသည်။
/B O T စာချုပ်အပိုဒ် ၇ /

<u>ကတိဝန်ခံချက်များ</u> ( အောက်ပါအတိုင်း ပေးထားပါသည်။ )

- ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိကြောင်း ။
- လုပ်ငန်း အသစ်ဖြစ်ကြောင်း
- ထွက်ရှိသော ကုန်ချောပစ္စည်းများ ပြည်ပသို့တင်ပို့ရန် ဈေးကွက်ရှိပြီး ဖြစ်ကြောင်း
- မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များ ကိုလိုက်နာမည်ဖြစ်ကြောင်း ။
- ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွားစေရန်နှင့် မီးဘေးအန္တရာယ်မဖြစ်ပွားစေရန်အတွက်လိုအပ်သော အစီအမံများ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း။
- စက်ရုံမှထွက်ရှိသော ရေများကို ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန်အတွက် Waste Water Treatment - စနစ်ဆောင်ရွက်ထားမည်ဖြစ်ကြောင်း ။
- လျှပ်စစ်ဓာတ်အားဝန်ကြီးဌာန၊ မြန်မာ လျှပ်စစ်ဓါတ်အားလုပ်ငန်းမှ အဆိုပြုစက်ရုံမှာ တည်ဆောက်ပြီး လည်ပတ်နေသော စက်ရုံဖြစ်၍ လျှပ်စစ်ဓါတ်အား ရရှိသုံးစွဲလျက်ရှိပါကြောင်း နှင့်ဆက်လက်ဓါတ်အား ပေးနိုင်ပါကြောင်း သဘောထားပြန်ကြားလာပါသည်။ ( ပူးတွဲ )

မွေးမြူရေး နှင့် ရေလုပ်ငန်းဝန်ကြီး ဌာန မှသဘောထား ပြန်ကြားစာတွင် -

- တန် ( ၁၀၀ ) ဆန့်အား ခန်း စက်ရုံအား စမ်းသပ်လည်ပတ်လျက်ရှိကြောင်း ၊
- လုပ်ငန်း၏ မြေနေရာ ယာလုံလောက်မှုရှိကြောင်း
- စက်ရုံတည်ရှိခြင်းအတွက် ပတ်ဝန်းကျင် ထိခိုက်မှုမရှိနိုင်ကြောင်း
- Waste Water Treatment - - ဆောင်ရွက်ထားမှုမှာ သတ်မှတ်ချက်နှင့် ကိုက်ညီမှုရှိကြောင်း နှင့်အဆိုပြုချက်အပေါ် ကန့်ကွက်ရန်မရှိကြောင်း ၊ ခွင့်ပြုဆောင်ရွက်စေသင့်ကြောင်း ပြန်ကြားလာပါသည်။ ( ပူးတွဲ )
- ဆောက်လုပ်ရေး ဝန်ကြီး ဌာနမှ သဘောထားတွင် တန် ( ၁၀၀ ) ဆန့်အား ခန်း စက်ရုံလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရေး ၊ စွန့်ပစ်ရေများ ကိုအနယ်စစ်ဇကာများ ၊ အနယ်ထိုင်ကန်များ ဖြင့်စနစ်တကျစွန့်ပစ် သန့်စင်စေပြီး မှစွန့်ပစ်သွားမည့်အစီအစဉ်များ ထားရှိ ဆောင်ရွက်မည်ဖြစ်ပြီး အမှတ် ( ၁ ) စက်မှုဝန်ကြီး ဌာနမှလည်း ကန့်ကွက်ရန်မရှိပါကြောင်း နှင့်ငါး လုပ်ငန်း ဦးစီး ဌာနမှလည်း စက်ရုံလည်ပတ်ခွင့်ပြုထားပြီး ဖြစ်၍လုပ်ငန်း ဆောင်ရွက်ရန် အား ခွင့်ပြုပေး နိုင်ပါရန် ထောက်ခံကြောင်း ပြန်ကြား လာပါသည်။ (ပူးတွဲ )

- ငွေ ကြေး ဆိုင် ရာအ ထောက်အထား အဖြစ် ရတနာသိဂီကုမ္ပဏီလီမိတက်အမည်ဖြင့် အာဂုရစနာဘဏ်လီမိတက်၌ (၂၄-၁၂-၂၀၀၂) နေ့ ငွေလက်ကျန်ကျပ် (၂၆၇.၉၁) သန်း ကိုတင်ပြထား ပါသည်။
- အဆိုပြုချက်ကို (၂၈-၆-၂၀၀၁) နေ့ တွင်ကျင်း ပပြုလုပ်ခဲ့သည့် ကော်မရှင်၏ (၂၁/၂၀၀၁)အစည်း အဝေး သို့တင် ပြခဲ့ရာလုပ်ငန်း ဆောင် ရွက် ခွင့်အတွက် နှစ် ရှည် မြေငှား ရမ်း ၍ ပိုက BOT စနစ်ဖြင့် ဆောင်ရွက်သင့် ကြောင်း နှင့် ပြန်လည်ညှိနှိုင်း ပြီး တင်ပြရန် ဆုံး ဖြတ်ခဲ့ ပါသည်။ ယခုအခါအမှတ် (၁) စက်မှုဝန်ကြီး ဌာနမှ B O T စနစ်ဖြင့် မြေငှားသဘော တူစာချုပ်နှင့်အ အေး ခန်း စက်ပစ္စည်း များ ဝယ်ယူခြင်း ကိုDeferred Payment စနစ်၏အစား ပြည့်တွင်း မှ ဝယ်ယူခြင်း ဖြင့်ပြင်ဆင်တင်ပြလာပါသဖြင့်ကော်မရှင် အစည်း အဝေး သို့ဆက်လက်တင်ပြခြင်းဖြစ် ပါသည်။
- ခွင့်ပြုမိန့်ထုတ် ပေး ပြီး အ အေး ခန်းစက် ရုံလုပ်ငန်း (၃၇) ခု ရှိပြီး ၊ ယခုအဆိုပြု လုပ်ငန်းအပါအဝင်ဆောင်ပြုထား သောလုပ်ငန်း (၃၈) ခုရှိပါသည်။
- ပူး တွဲပါဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါအခွင့် ဆိုင် ရာကင်း လွတ်ခွင့်နှင့်သက်သာခွင့် များ ကိုပါခံစား ခွင့်ပြုပါရန် လျှောက်ထား လာပါသည်။

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ ရရှိရေးအတွက် လျှောက်ထားချက်အပေါ် အောက်ပါအတိုင်း သုံးသပ်တင်ပြပါသည်။

- ဥပဒေပုဒ်မ ၁၃(ခ) အရ လုပ်ငန်းမှ ပြည်ပသို့တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့်ရရှိသည့်အမြတ်ငွေအပေါ် (၅၀ %) ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ လုပ်ငန်း၏ အမှန်တကယ် အကောင်အထည်ဖော်ဆောင်ရွက်နိုင်မှုအခြေအနေကို ဖော်ပြလျှက် ပထမဝင်ငွေခွန်ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက် ကော်မရှင်သို့ လျှောက်ထားလာသည့်အခါ စဉ်းစားခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃(ဂ) အရ ကုန်ထုတ်လုပ်မှုကြောင့်ပြည်တွင်းပြည်ပ ဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်သက်သာခွင့်ကို လုပ်ငန်းအကောင်အထည်ဖော်မှုအရ လျှောက်ထားလာသည့်အခါ စဉ်းစားခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃(ဃ) အရ သွင်းကုန်အစားထိုးလုပ်ငန်းအဖြစ် အကျိုးအမြတ်နည်းသည့်လုပ်ငန်းအပေါ် သင့်လျော်သောကာလအထိ ဝင်ငွေခွန်သက်သာခွင့်တောင်းခံခြင်းကိုအကျုံးဝင်ခြင်းမရှိဟု သုံးသပ်ရပါသည်။
- ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှရရှိမည့်အမြတ်ငွေကို တစ်နှစ်အတွင်း ပြန်လည်ရင်းနှီးမြှုပ်နှံပါက ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်ကို အမှန်တကယ်ပြန်လည်ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လျှောက်ထားလာပါက ခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံးမတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတိုနှင့်မူလတန်ဖိုး ပြည့်မီသည်အထိအမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့်ပတ်သက်၍ လျှောက်ထားလာသည့်အခါ ကော်မရှင်မှသတ်မှတ်သည့်နှုန်းအတိုင်း ခွင့်ပြုသင့်ပါသည်။

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**
၆၅၃/၆၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

☎ တယ်လီဖုန်း – ၃၇၂၈၉၀

စာအမှတ်၊ ၇၈ – ၁/ မ – ၆၁၁/ ၂၀၀၃ (၁၇၁၀
ရက်စွဲ၊ ၂၀၀၃ ခုနှစ်၊ ဇူလိုင်လ ၂၉ ရက်

အကြောင်းအရာ။ ။ ရတနာသီဂိုကုမ္ပဏီလီမိတက်မှအအေးခန်း စက်ရုံလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ။

ရည်ညွှန်းချက်။ ။ အမှတ်(၁)စက်မှုဝန်ကြီးဌာန၏ (၂၁–၅–၂၀၀၃) ရက်စွဲပါစာအမှတ် ၂၅/ ၁စဘန (၄၁း ရမ်း)(၂၀၀၃–၂၀၀၄)(၂၉၄)။

၁။ အထက်အကြောင်းအရာပါ အမှတ်(၁)စက်မှုဝန်ကြီးဌာနမှ ရည်ညွှန်းပါစာဖြင့်တင်ပြခြင်းကိစ္စနှင့်စပ်လျဉ်း၍ (၂၄–၇–၂၀၀၃) နေ့တွင်ကျင်းပသော ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၂၃/၂၀၀၃) အစည်းအဝေးသို့တင်ပြခဲ့ပါသည်။

၂။ အဆိုပါအစည်းအဝေးမှ အောက်ပါအတိုင်းဆုံးဖြတ်ခဲ့ပါသည် –

– လုပ်ငန်းဆောင်ရွက်ရန်မူအားဖြင့်သဘောတူခွင့်ပြုသဖြင့်အစိုးရအဖွဲ့အစည်းအဝေးသို့ဆက်လက်တင်ပြရန်

၃။ သို့ဖြစ်ပါ၍ အထက်ပါအစည်းအဝေးဆုံးဖြတ်ချက်ကိုသိရှိနိုင်ပါရန်နှင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့အစည်းအဝေးသို့ဆက်လက်တင်ပြနိုင်ရန် အတွက်လိုအပ်သောအဆိုပြုလွှာ( PROPOSAL ) များကို၅ ကော်မရှင်သို့ပေးပို့ပါရန် အကြောင်းကြားအပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(ဒိုလ်မှူးကြီး လင်းသော်၊ အထူးအရာရှိ)

ဝန်ကြီးရုံး
အမှတ်(၁)စက်မှုဝန်ကြီးဌာန။

မိတ္တူ– ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့ဆေးဝါးနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း
– ရတနာသီဂိုကုမ္ပဏီလီမိတက်

* ကျော်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**
၆၅၃/၆၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

☎ တယ်လီဖုန်း - ၃၇၂၈၉၀

စာအမှတ်၊ ၅၈-၁/မ-၆၁၁/၂၀၀၃ (၁၃၁၀
ရက်စွဲ၊ ၂၀၀၃ ခုနှစ်၊ ဇူလိုင်လ ၂၉ ရက်

အကြောင်းအရာ။ ။ <u>ရတနာသီဂိုကုမ္ပဏီလီမိတက်မှ အအေးခန်းစက်ရုံလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ။</u>

ရည်ညွှန်းချက်။ ။ အမှတ်(၁)စက်မှုဝန်ကြီးဌာန၏(၂၁-၅-၂၀၀၃) ရက်စွဲပါစာအမှတ် ၂၅/၁စဘန(ငှားရမ်း)(၂၀၀၃-၂၀၀၄)(၂၈၄)။

၁။ အထက်အကြောင်းအရာပါအမှတ်(၁)စက်မှုဝန်ကြီးဌာနမှ ရည်ညွှန်းပါစာဖြင့်တင်ပြခြင်းကိစ္စနှင့်စပ်လျဉ်း၍(၂၄-၇-၂၀၀၃) နေ့တွင်ကျင်းပသော ကုန်သွယ်မှုမူဝါဒကောင်စီ၏(၂၃/၂၀၀၃)အစည်းအဝေးသို့တင်ပြခဲ့ပါသည်။

၂။ အဆိုပါအစည်းအဝေးမှ အောက်ပါအတိုင်းဆုံးဖြတ်ခဲ့ပါသည်-

- လုပ်ငန်းဆောင်ရွက်ရန်မူအားဖြင့်သဘောတူခွင့်ပြုသဖြင့်အစိုးရအဖွဲ့အစည်းအဝေးသို့ဆက်လက်တင်ပြရန်

၃။ သို့ဖြစ်ပါ၍ အထက်ပါအစည်းအဝေးဆုံးဖြတ်ချက်ကိုသိရှိနိုင်ပါရန်နှင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့အစည်းအဝေးသို့ဆက်လက်တင်ပြနိုင်ရန် အတွက်လိုအပ်သောအဆိုပြုလွှာ( PROPOSAL )များကို၅ ကော်မရှင်သို့ပေးပို့ပါရန် အကြောင်းကြားအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(ဗိုလ်မှူးကြီး လင်းသော်၊ အထူးအရာရှိ)

<u>ဝန်ကြီးရုံး</u>
<u>အမှတ်(၁)စက်မှုဝန်ကြီးဌာန။</u>

မိတ္တူ- ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့ဆေးဝါးနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း
- ရတနာသီဂိုကုမ္ပဏီလီမိတက်

* ကျော်